ကန့်သတ်

Myanmar BAF Joint Venture Company Limited မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း
ဝက်မွေးမြူရောင်းချခြင်းလုပ်ငန်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှတင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာပေါက်ထားလွှာ တင်ပြလာခြင်း | | ၃-၁၀-၂၀၁၈ | |
| ၂ | လုပ်ငန်း လိုအပ်ချက်အရ သက်ဆိုင်ရာ ဝန်ကြီးဌာန များသို့ သဘောထား တောင်းခံခြင်း | | | |
| | - စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန | ၈-၁၀-၂၀၁၈ | ၁၆-၁၀-၂၀၁၈ | |
| | - ရန်ကုန် တိုင်းဒေသကြီး အစိုးရအဖွဲ့ | ၈-၁၀-၂၀၁၈ | ၁၇-၁၀-၂၀၁၈ | |
| | - ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန (One Stop Service) | ၅-၁၀-၂၀၁၈ | ၁၆-၁၀-၂၀၁၈ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၃၁/၂၀၁၈ (၈-၁၀-၂၀၁၈) | | |
| ၄ | အဆိုပြုချက်အားလက်ခံကြောင်း ပြန်ကြားခြင်း | ၈-၁၀-၂၀၁၈ | | |
| ၅ | အဆိုပြုချက်အပေါ် ပြင်ဆင်တင်ပြရမည့်အချက်များ အကြောင်းကြားခြင်း | ၁၅-၁၀-၂၀၁၈ | ၂၆-၁၀-၂၀၁၈ | |
| ၆ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၁၈/၂၀၁၈ (၂-၁၁-၂၀၁၈) | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **(၃၁) ရက်** | | |

ကန့်သတ်

# အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

**ကုမ္ပဏီအမည်** Myanmar BAF Joint Venture Company Limited

**လုပ်ငန်းအမျိုးအစား** ဝက်မွေးမြူရောင်းချခြင်းလုပ်ငန်း

**PATအကြိမ်/နေ့စွဲ** ၃၁/၂၀၁၈ (၈-၁၀-၂၀၁၈)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု ပြီး(✓) မပြီး(x) | မှတ်ချက် |
|---|---|---|---|
| ၁ | ချေးငွေရယူမှုအား ပြန်လည်စိစစ်ပြီး ရင်းနှီးမြှုပ်နှံမှုပုံစံ ပြင်ဆင်တင်ပြရန်။ | ✓ | |
| ၂ | လုပ်ငန်းအမျိုးအစား ပြင်ဆင်တင်ပြရန်။ | ✓ | |
| ၃ | လုပ်ငန်းတည်နေရာပြမြေပုံနှင့် Layout Plan တင်ပြပေးရန်။ | ✓ | |
| ၄ | Waste Water Treatment Plan တင်ပြပေးရန်။ | ✓ | |

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar BAF Joint Venture Company Limited မှ ဝက်မွေးမြူ ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ | - Myanmar BAF Joint Venture Company Limited<br>- ဒေါ်စုစုလှိုင် (မြန်မာ) |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- BaF Viet Nam Agriculture Joint Stock Company (Vietnam) ၈၀ %<br>- Myanmar BAF Feed Farm Food Co., Ltd. (Myanmar) ၂၀ % |
| | လုပ်ငန်းအမျိုးအစား | - ဝက်မွေးမြူ ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်- ဘီ ၁၊ ၂၊ ၃၊ ၄၊ ၆၅၊ ၆၆၊ ၆၇၊ ၆၈၊ ကွင်းအမှတ် (၅၁၁-ခ)နှင့် (၅၁၉-က)၊ ညောင်နှစ်ပင်အုပ်စု၊ ဟင်းသီးဟင်းရွက် စိုက်ပျိုးထုတ်လုပ်ရေးနှင့် ကြက်မွေးမြူရေး အထူးဇုန်(၁)၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - ဦးခင်မောင်ဦး၊ ဦးကျော်မြင့် |
| | မြေအကျယ်အဝန်း | - ဦးခင်မောင်ဦးပိုင် မြေကွက်အမှတ် ဘီ-၃၊၄၊၆၅၊၆၆ ရှိ မြေ (၂၀)ဧက<br>- ဦးကျော်မြင့်ပိုင် မြေကွက်အမှတ် ဘီ-၁၊၂၊၆၇၊၆၈ရှိ မြေ (၂၀)ဧက စုစုပေါင်း မြေ ၄၀ ဧက |
| ၄။ | နှစ်စဉ် မြေငှားရမ်းခ | - မြေကွက်အမှတ် ဘီ-၃၊၄၊၆၅၊၆၆ ရှိ မြေ ၂၀ ဧက အတွက် တစ်နှစ်ငှားရမ်းခ ကျပ် ၂၀,၀၀၀,၀၀၀<br>တစ်နှစ် တစ်ဧကလျှင် ၁,၀၀၀,၀၀၀ ကျပ်<br>- မြေကွက်အမှတ် ဘီ-၁၊၂၊၆၇၊၆၈ ရှိ မြေ ၂၀ ဧက အတွက် တစ်နှစ်ငှားရမ်းခ ကျပ် ၂၀,၀၀၀,၀၀၀<br>တစ်နှစ် တစ်ဧကလျှင် ၁,၀၀၀,၀၀၀ ကျပ် |
| | မြေငှားရမ်း အသုံးပြုခွင့် သက်တမ်း | - ၁၅ နှစ် |

၅။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း - ၁၅ နှစ်

တည်ဆောက်မှုကာလ/ ပြင်ဆင်မှုကာလ - ၁ နှစ်

၆။ စုစုပေါင်းမတည်ငွေရင်း ထည့်ဝင်သည့်အမျိုးအစား

- **အမေရိကန်ဒေါ်လာ ၁၀.၄၈၀ သန်း (ချေးငွေ အမေရိကန်ဒေါ်လာ ၅.၀၀ သန်းအပါအဝင်)**

| အကြောင်းအရာ | ပြည်ပ (US$/သန်း) | ပြည်တွင်း (US$/သန်း) | စုစုပေါင်း (US$/သန်း) |
|---|---|---|---|
| ငွေသား | ၁.၀၀၀ | | ၁.၀၀၀ |
| စက်ပစ္စည်း | ၀.၄၉၅ | ၀.၄၆၀ | ၀.၉၅၅ |
| စက်ပစ္စည်း (ချေးငွေ) | ၀.၆၆၅ | ၁.၀၀၀ | ၁.၆၆၅ |
| ကနဦးကုန်ကြမ်း | ၂.၂၀၀ | | ၂.၂၀၀ |
| ကနဦးကုန်ကြမ်း (ချေးငွေ) | ၁.၁၇၀ | | ၁.၁၇၀ |
| အခြားနှင့် အဆောက်အဦ ကုန်ကျ စရိတ် | ၀.၆၈၉ | ၀.၂၀၁ | ၀.၈၉ |
| အခြားနှင့် အဆောက်အဦ ကုန်ကျစရိတ် (ချေးငွေ) | ၂.၁၆၅ | | ၂.၁၆၅ |
| မြေငှားရမ်းခ | | ၀.၄၃၅ | ၀.၄၃၅ |
| စုစုပေါင်း | ၈.၃၈၄ | ၂.၀၉၆ | ၁၀.၄၈၀ |

၇။ ဝန်ထမ်းအင်အား - **၉၂ ဦး**

ပြည်တွင်း - ၈၃ ဦး(ပြည်တွင်း ဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ US$ ၃၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၄,၀၀၀ ဖြစ် ပါသည်။)

ပြည်ပ - ၉ ဦး (ပြည်ပဝန်ထမ်း တစ်ဦး၏အနိမ့်ဆုံးလစာမှာUS$ ၂,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၆,၀၀၀ ဖြစ်ပါသည်။)

၈။ ရောင်းချမည့်စနစ် - ပြည်တွင်း ၁၀၀%

နှစ်စဉ်ထုတ်လုပ်မှု(ပုံမှန်နှစ်)

| စဉ် | အမျိုးအစား | အရေအတွက် (No) | ရောင်းချမည့် ဈေးနှုန်း (ကျပ်/ No) |
|---|---|---|---|
| (က) | Breeding stock | ၇၇၀ | ၆၂၀,၀၀၀ |
| (ခ) | Market hogs, dismissed sows | ၆,၃၀၀ | ၃၀၀,၀၀၀ |

၉။ လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) - ၂,၁၉၀,၀၀၀ kWh

၁၀။ အခြားတင်ပြချက် - မြေပိုင်ရှင် ဦးခင်မောင်ဦး၊ ဦးကျော်မြင့် နှင့် Myanmar BAF Joint Venture Co., Ltd. တို့ချုပ်ဆိုမည့် မြေငှား စာချုပ် (မူကြမ်း) များကိုတင်ပြထားပါသည်။

| | | |
|---|---|---|
| | | - မြေအထောက်အထားအဖြစ် ဦးခင်မောင်ဦးနှင့် ဦးကျော်မြင့် အမည်ဖြင့် ရန်ကုန်တိုင်းအေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၊ ဟင်းသီးဟင်း ရွက်စိုက်ပျိုးထုတ်လုပ်ရေးနှင့် ကြက်မွေးမြူရေးလုပ်ငန်းအတွက်ခွင့်ပြုထားသော လုပ်ကိုင်ခွင့်အမိန့်စာများ၊ ဝက်မွေးမြူရေးလုပ်ငန်း ပြောင်းလဲလုပ်ကိုင်ခြင်းအတွက် လှည်းကူးမြို့နယ်၊ ဟင်းသီးဟင်းရွက် စိုက်ပျိုးထုတ်လုပ်ရေးနှင့် ကြက်မွေးမြူရေး အထူးဇုန်(၁)၊ ဥက္ကဋ္ဌထံသို့ လျှောက်ထားသည့် စာအားတင်ပြထားပါသည်။<br>- BaF Viet Nam Agriculture Joint Stock Company နှင့် Myanmar BAF Feed Farm Food Co., Ltd. တို့ ချုပ်ဆိုထားသည့် ဖက်စပ်စာချုပ်၊ အဆောက်အဦပုံစံ၊ တည်နေရာပြမြေပုံ၊ MOA, AOA နှင့် ကုမ္ပဏီ မှတ်ပုံတင်ကတ် မိတ္တူ တို့ကို တင်ပြထားပါသည်။<br>- BaF Viet Nam Agriculture Joint Stock Company ၏ Profile တင်ပြထားပါသည်။<br>- Myanmar BAF Joint Venture Co., Ltd. သည် ရန်ကုန်ဘဏ်ခွဲဖြစ်သော Joint Stock Commercial Bank for Investment And Development of Vietnam မှ ချေးငွေ US$ ၇.၀၀သန်း ချေးယူမည်ဖြစ်ပြီး MOU၊ အတိုးနှုန်း နှင့် ပြန်ဆပ်မည့် အစီအစဉ်တို့ကို တင်ပြထားပါသည်။<br>- ဒါရိုက်တာများ၏ Passport နှင့် မှတ်ပုံတင်မိတ္တူများ တင်ပြထားပါသည်။<br>- ငွေရေးကြေးရေး အထောက်အထားအဖြစ် Myanmar BAF Joint Venture Co., Ltd. အမည်ဖြင့် BIDV ဘဏ်တွင် ၂၃-၇-၂၀၁၈ ရက်နေ့အထိ US$ ၇၅,၀၀၀.၀၀ ရှိကြောင်းနှင့် BaF Viet Nam Agriculture Joint Stock Company ၏ Separate Financial Statement တို့အား တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၁။ | စိစစ်တင်ပြချက် | - စက်ပစ္စည်းတန်ဖိုးအမေရိကန်ဒေါ်လာ ၂.၁၆ သန်း နှင့် Sows breeding stocks နှင့် Boars အတွက် တန်ဖိုးအမေရိကန်ဒေါ်လာ ၂.၂၀၀ သန်းအား ပြည်ပမှ တင်သွင်းမည် ဖြစ်ကြောင်း နှင့် ကနဦး ကုန်ကြမ်း (Soybean Meal) အတွက် တန်ဖိုး အမေရိကန်ဒေါ်လာ ၁.၁၇၀ သန်းအား ပြည်ပမှ ဝယ်ယူမည် ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင် မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ပြီး ISIC Code- 0145 တွင် အကျုံးဝင်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ဇုန်(၂)တွင် ပါဝင်ပါသည်။<br>- Joint Stock Commercial Bank For Investment and Development of Vietnam မှ Short-term Loan US$ ၂.၀၀ သန်း နှင့် Mid-term Loan US$ ၅.၀၀ သန်း စုစုပေါင်း ချေးငွေ US$ ၇.၀၀သန်း ချေးယူမည်ဟု ဖော်ပြထားသော်လည်း အဆိုပြုလုပ်ငန်းအတွက် ချေးငွေ US$ ၅.၀၀ သန်းသာ သုံးစွဲမည်ဖြစ်ကြောင်း PAT ဆုံးဖြတ်ချက်အရ ပြန်လည်တင်ပြထားပါသည်။ |

**ကန့်သတ်**



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/ခ-၀၃၂/၂၀၁၈( ၅၀၂-က )
ရက်စွဲ ၊ ၂၀၁၈ ခုနှစ် အောက်တိုဘာလ ၂၆ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar BAF Joint Venture Company Limited မှ ဝက်မွေးမြူရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

၁။ ဗီယက်နမ်နိုင်ငံ BaF Viet Nam Agriculture Joint Stock Company မှ ၈၀% နှင့် မြန်မာနိုင်ငံ Myanmar BAF Feed Farm Food Co., Ltd. မှ ၂၀ % အစုရှယ်ယာများ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် တည်ထောင်ထားသည့် Myanmar BAF Joint Venture Company Limited မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်- ဘီ ၁၊ ၂၊ ၃၊ ၄၊ ၆၅၊ ၆၆၊ ၆၇၊ ၆၈၊ ကွင်းအမှတ် (၅၁၁-ခ)နှင့် (၅၁၉-က)၊ ညောင်နှစ်ပင်အုပ်စု၊ ဟင်းသီးဟင်းရွက် စိုက်ပျိုးထုတ်လုပ်ရေးနှင့် ကြက်မွေးမြူရေးအထူးဇုန်(၁)၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ (၄၀)ဧက (၁၆၁,၈၇၉ စတုရန်းမီတာ) အား ငှားရမ်း၍ ဝက်မွေးမြူရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြေပိုင်ရှင် ဦးခင်မောင်ဦး၊ ဦးကျော်မြင့် နှင့် Myanmar BAF Joint Venture Co., Ltd. တို့ ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း)များ၊ ရန်ကုန်တိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၊ ဟင်းသီးဟင်းရွက် စိုက်ပျိုးထုတ်လုပ်ရေးနှင့် ကြက်မွေးမြူရေး လုပ်ငန်းအတွက် လုပ်ကိုင်ခွင့်ရရှိထားသည့် အထောက်အထားများ၊ အဆောက်အဦပုံစံ၊ တည်နေရာပြမြေပုံ၊ BaF Viet Nam Agriculture Joint Stock Company နှင့် Myanmar BAF Feed Farm Food Co., Ltd. တို့ ချုပ်ဆိုထားသည့် ဖက်စပ်စာချုပ်မိတ္တူတို့ကို တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ၁၅ နှစ် ဖြစ်ပါသည်။ မြေကွက်အမှတ် ဘီ-၃၊၄၊၆၅၊၆၆ ရှိ မြေ ၂၀ ဧကအတွက် တစ်နှစ်ငှားရမ်းခမှာ ကျပ် ၂၀,၀၀၀,၀၀၀ ဖြစ်ပြီး တစ်နှစ်တစ်ဧကလျှင် ကျပ် ၁,၀၀၀,၀၀၀ နှင့် မြေကွက်အမှတ် ဘီ-၁၊၂၊၆၇၊၆၈ရှိ မြေ ၂၀ ဧကအတွက် တစ်နှစ်ငှားရမ်းခမှာ ကျပ် ၂၀,၀၀၀,၀၀၀ ဖြစ်ပြီး တစ်နှစ်တစ်ဧကလျှင် ကျပ် ၁,၀၀၀,၀၀၀ ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ၁၅ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

**ကန့်သတ်**

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းမှာ အမေရိကန်ဒေါ်လာ ၁၀.၄၈၀ သန်း (ချေးငွေ အမေရိကန် ဒေါ်လာ (၅)သန်းအပါအဝင်) ဖြစ်ပါသည်။ စက်ပစ္စည်းတန်ဖိုးအမေရိကန်ဒေါ်လာ ၂.၁၆ သန်းနှင့် Sows breeding stocks နှင့် Boars အတွက် တန်ဖိုးအမေရိကန်ဒေါ်လာ ၂.၂၀၀ သန်း အား ပြည်ပမှ တင်သွင်းမည်ဖြစ်ကြောင်းနှင့် ကနဦး ကုန်ကြမ်း (Soybean Meal) အတွက် တန်ဖိုး အမေရိကန်ဒေါ်လာ ၁.၁၇၀ သန်းအား ပြည်ပမှ ဝယ်ယူမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း (၈၃)ဦးနှင့် ပြည်ပဝန်ထမ်း (၉) ဦး စုစုပေါင်း ဝန်ထမ်းဦးရေ ၉၂ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၃၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၄,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာမှာUS$ ၂,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၆,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ဝက်များအား ပြည်တွင်း ၁၀၀%ရောင်းချမည် ဖြစ်ပါသည်။ ထုတ်လုပ်မှု နှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအစား | အရေအတွက် (No) | ရောင်းချမည့် ဈေးနှုန်း (ကျပ်/ No) |
|---|---|---|---|
| (က) | Breeding stock | ၇၇၀ | ၆၂၀,၀၀၀ |
| (ခ) | Market hogs, dismissed sows | ၆,၃၀၀ | ၃၀၀,၀၀၀ |

၈။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ ကန့်ကွက်ရန် မရှိကြောင်း သဘောထား ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ(က)**

(ခ) **စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ** မွေးမြူရေးနှင့် ကုသရေး ဦးစီးဌာန၏ တည်ဆဲဥပဒေဖြစ်သော တိရစ္ဆာန်ကျန်းမာရေးနှင့် ဖွံ့ဖြိုးရေး ဥပဒေနှင့် ကောင်းမွန်သော မွေးမြူရေးကျင့်စဉ် (GAHP) တို့နှင့်အညီ ဆောင်ရွက်ပါက ပြည်တွင်းမွေးမြူရေးဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူ ပြုမည်ဖြစ်ပါ သောကြောင့် အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ ကန့်ကွက်ရန် မရှိကြောင်း ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ(ခ)**

(ဂ) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာနမှ** ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း(Environmental Impact Assessment-EIA)ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံး လုပ်နည်း အပိုဒ်(၄၉)၊ (၆၃)နှင့်အညီ ပြုစုဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင် စီမံ

ခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ကို ရေးဆွဲတင်ပြရမည်ဖြစ်ကြောင်း ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ(ဂ)**

၉။ ငွေရေးကြေးရေး အထောက်အထားအဖြစ် Myanmar BAF Joint Venture Co., Ltd. အမည်ဖြင့် BIDV ဘဏ်တွင် ၂၃-၇-၂၀၁၈ ရက်နေ့အထိ US$ ၇၅,၀၀၀.၀၀ ရှိကြောင်းနှင့် BaF Viet Nam Agriculture Joint Stock Company ၏ Separate Financial Statement တို့အား တင်ပြထား ပါသည်။

၁၀။ ဝန်ထမ်းသက်သာ ချောင်ချိရေးအစီအစဉ်၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ မီးဘေး ကြိုတင်ကာကွယ်ရေးစီမံချက်၊ CSR Project နှင့် အညစ်အကြေးစွန့်ပစ်မှုအတွက် ဆောင်ရွက်ထားရှိသည် အစီအစဉ်တို့ကို တင်ပြထားပါသည်။

၁၁။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၈ ခုနှစ် အောက်တိုဘာလ ၈ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၃၁/၂၀၁၈ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC Code- 0145 တွင် အကျုံးဝင်ပါသည်။

(ခ) အဆိုပြု လုပ်ငန်းဆောင်ရွက်မည့် နေရာသည် ဇုန်(၂)တွင် ပါဝင်ပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၃။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar BAF Joint Venture Company Limited မှ ဝက်မွေးမြူရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ (က)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ အောက်တိုဘာလ ၁၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈.၁၀.၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက - ၂ / ခ - ၀၃၂ / ၂၀၁၈ (၄၇၂)

၁။ ဗီယက်နမ်နိုင်ငံ BaF Viet Nam Agriculture Joint Stock Company မှ ၈၀ % နှင့် မြန်မာနိုင်ငံ Myanmar BAF Feed Farm Food Co.,Ltd မှ ၂၀ % အစုရှယ်ယာများ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် တည်ထောင်ထားသည့် Myanmar BAF Joint Venture Company Limited မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ် -ဘီ ၁၊ ၂၊ ၃၊ ၄၊ ၆၅၊ ၆၆၊ ၆၇၊ ၆၈၊ ကွင်းအမှတ် (၅၁၁-ခ)နှင့် (၅၁၉-က)၊ ညောင်နှစ်ပင်အုပ်စု၊ မှော်ဘီမြို့နယ်နှင့် ကွင်းအမှတ်(၉၇၈)၊ ကြာအင်းအုပ်စု၊ ကွင်းအမှတ် (၉၇၇)၊ ကာလီထော်အနောက်အုပ်စု၊ လှည်းကူးမြို့နယ်၊ ဟင်းသီးဟင်းရွက်စိုက်ပျိုးထုတ်လုပ်ရေးနှင့် ကြက်မွေးမြူရေးအထူးဇုန်(၁)၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ(၄၀)ဧက (၁၆၁,၈၇၉ စတုရန်းမီတာ)အား ငှားရမ်း၍ ဝက်မွေးမြူရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံ လာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၁၁.၁၀.၂၀၁၈ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၉/၂၀၁၈)၊ ဆုံးဖြတ်ချက်အပိုဒ်(၆၀)အရ ကန့်ကွက်ရန် မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(နော်ပန်းသဉ္ဇာမြိုး၊ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး)

**မိတ္တူကို**

တိုင်းဒေသကြီးဦးစီးမှူး၊ ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
မှော်ဘီမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှည်းကူးမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Myanmar BAF Joint Venture Company Limited
လက်ခံစာတွဲ/မျှောစာတွဲ

နောက်ဆက်တွဲ (ခ)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**

**ပြည်ထောင်စုဝန်ကြီးရုံး**

NPF-3999
17.10.18

စာအမှတ်၊ ၃/ ၂၀၀၀/ မွေးရေကျေး( ၅၇၇ /၂၀၁၈)

ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ အောက်တိုဘာလ ၁၆ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

MIC, 339 19/10

အကြောင်းအရာ ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈-၁၀-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၂/ ခ-၀၃၂/ ၂၀၁၈ (၄၇၃)

၁။ Myanmar BAF Joint Venture Company Limited မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်-ဘီ ၁၊ ၂၊ ၃၊ ၄၊ ၆၅၊ ၆၆၊ ၆၇၊ ၆၈၊ ကွင်းအမှတ် (၅၁၁-ခ) နှင့် (၅၁၉-က)၊ ညောင်နှစ်ပင်အုပ်စု၊ မှော်ဘီမြို့နယ်နှင့် ကွင်းအမှတ် (၉၇၈)၊ ကြာအင်းအုပ်စု၊ ကွင်းအမှတ် (၉၇၇)၊ ကလီထော်အနောက်အုပ်စု၊ လှည်းကူးမြို့နယ်၊ ဟင်းသီးဟင်းရွက် စိုက်ပျိုးထုတ်လုပ်ရေးနှင့် ကြက်မွေးမြူရေးအထူးဇုန်(၁)၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ(၄၀) ဧက (၁၆၁,၈၇၉ စတုရန်းမီတာ) အား ငှားရမ်း၍ ဝက်မွေးမြူရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိုက်ပျိုးရေး၊မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ Myanmar BAF Joint Venture Company Limited သည် မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၏ တည်ဆဲဥပဒေဖြစ်သော တိရစ္ဆာန်ကျန်းမာရေးနှင့်ဖွံ့ဖြိုးရေးဥပဒေနှင့် ကောင်းမွန်သောမွေးမြူရေးကျင့်စဉ် (GAHP) တို့နှင့်အညီ အဆိုပြုစီမံကိန်းလုပ်ငန်းကို ဆောင်ရွက်ပါက ပြည်တွင်းမွေးမြူရေးဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုမည်ဖြစ်ပါသောကြောင့် စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

၁၆/၁၀/၁၈

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

ဒေါက်တာခင်ဇော်၊ အမြဲတမ်းအတွင်းဝန်

မိတ္တူ-

(၁) ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန

(၂) ရုံးလက်ခံ

(၃) မျှော

နောက်ဆက်တွဲ (ဂ)

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၆၃/၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ အောက်တိုဘာလ ၁၄ ရက်





သို့

မြန်မာနိုင်ငံရင်းနီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Myanmar BAF Joint Venture Company Limited မှ ဝက်မွေးမြူခြင်းနှင့် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနီးမြှုပ်နှံမှုကော်မရှင်၏ ၅-၁၀-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက- ၂/ ခ-၀၃၂/ ၂၀၁၈(၄၇၁)

၁။ ဗီယက်နမ်နိုင်ငံ BAF Viet Nam Agriculture Joint Stock Company မှ ၈၀% နှင့် မြန်မာနိုင်ငံ Myanmar BAF Feed Farm Food Co., Ltd. မှ ၂၀% အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် တည်ထောင်ထားသည့် Myanmar BAF Joint Venture Company Limited မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်- ဘီ ၁၊ ၂၊ ၃၊ ၄၊ ၆၅၊ ၆၆၊ ၆၇၊ ၆၈၊ ကွင်းအမှတ်- ၅၁၁/ခ နှင့် ၅၁၉/က၊ ညောင်နှစ်ပင်အုပ်စု၊ မှော်ဘီမြို့နယ်နှင့် ကွင်းအမှတ်- ၉၇၈၊ ကြာအင်းအုပ်စု၊ ကွင်း အမှတ်- ၉၇၇၊ ကလီထော်အနောက်အုပ်စု၊ လှည်းကူးမြို့နယ်၊ ဟင်းသီးဟင်းရွက် စိုက်ပျိုးထုတ်လုပ်ရေးနှင့်ကြက်မွေးမြူရေးဇုန်- ၁၊ ရန်ကုန်တိုင်းဒေသကြီးရှိမြေ ၄၀ ဧက(၁,၆၁,၈၇၉.၀၀ စတုရန်းမီတာ) ကို ငှားရမ်း၍ ဝက်မွေးမြူခြင်းနှင့် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၁၅) နှစ်ဖြစ်ပြီး၊ တည်ဆောက်ရေးကာလမှာ (၁) နှစ် ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအားမြေ (၁,၆၁,၈၇၉.၀၀ စတုရန်းမီတာ) ပေါ်တွင် Boar Building (၁) လုံး၊ Gift Building (၁) လုံး၊ Farrowing Building (၃) လုံး၊ Weaner Building (၃) လုံး၊ Porker Building (၈) လုံးတည်ဆောက်ခြင်း အပါဝင် စုစုပေါင်းအဆောက်အဦ (၁၆) လုံး ဆောက်လုပ်ကာ လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းမှ ပထမနှစ်တွင် စုစုပေါင်းအကောင်ရေ (၇၀၇၀) နှင့် ပဥ္စမနှစ်တွင် စုစုပေါင်းအကောင်ရေ (၆၃,၂၅၀) ကို မွေးမြူ၍ ဈေးကွက်တွင်းရောင်းချကာ လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

( င) လုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ၏ (၁%)ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့်ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကာ လိုအပ်သော စွန့်ပစ်ရေပြန်လည်သန့်စင်သည့်စနစ်ကိုလည်း တည်ဆောက် တပ်ဆင်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Myanmar BAF Joint Venture Company Limited မှ ဝက်မွေးမြူခြင်းနှင့်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အဆောက်အဦများ တည်ဆောက်ရာ၌ မြေပြုပြင်ခြင်းနှင့် ဆောက်လုပ်ရေး လုပ်ငန်းခွင်မှ ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ တုန်ခါမှုများ၊ လုပ်ငန်းသုံးယာဉ်/ ယန္တရား များမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် အနီးပတ်ဝန်းကျင်ရှိ လေထု၊ မြေထုနှင့်ရေထုညစ်ညမ်းမှုဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) ဝက်မွေးမြူရေးလုပ်ငန်းမှ ထွက်ရှိလာမည့် စွန့်ပစ်ရေ၊ မိလ္လာအညစ်အကြေး အနံ့အသက်များကို စနစ်တကျ စီမံခန့်ခွဲမှုမရှိပါက ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် ပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ကျန်းမာရေးကို ထိခိုက်စေနိုင်ခြင်း၊

(ဂ) မွေးမြူရေးနှင့် ကုသရေးဦးစီးဌာနမှ ညွှန်ကြားချက်နှင့်အညီ စနစ်တကျ ကာကွယ်ဆေးထိုးခြင်း၊ လိုအပ်သည့် အစီအမံများစီစဉ်ဆောင်ရွက်ထားခြင်းမရှိပါက မွေးမြူရေးဝက်များတွင်ဖြစ်ပွားတတ်သည့် တုတ်ကွေးရောဂါကြောင့် ကပ်ရောဂါအသွင် ကူးစက်ရောဂါများဖြစ်ပွားစေနိုင်ခြင်း၊ အလုပ်သမားများနှင့်ပတ်ဝန်းကျင်ရှိ ပြည်သူများ၏ကျန်းမာရေးကိုထိခိုက်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Myanmar BAF Joint Venture Company Limited မှ ဝက်မွေးမြူခြင်းနှင့်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ် ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကိုပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင်

အမြတ်ငွေ၏ ၁% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကိုတိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစု ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်း သိမ်းရေးဝန်ကြီးဌာနသို့တင်ပြ အတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီးသယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်

ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ